ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
နိုင်ငံခြားရေးဝန်ကြီးဌာန

စာအမှတ်၊ ၃၂ ၇၇ ၂၇(၂၁၂၂ )
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန်လ ၃၀ ရက်

သို့
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဒုတိယဝန်ကြီး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **စင်ကာပူနိုင်ငံရှိ Resources & Resources နှင့် ပတ်သက်၍ စုံစမ်းသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၆-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ရကာ-၆(ခ)/န-၄၄၅/၂၀၁၀(၈၉၃၂)
(၂) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၂၅-၆-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ၁၁/AIG (၅၂၃/၂၀၁၀)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ စင်ကာပူနိုင်ငံရှိ Resources & Resources Pte. Ltd.နှင့်ပတ်သက်၍ ကိုရီးယားသမ္မတနိုင်ငံရှိ Auto Industrial Group (Auto & R & R) ၏ Chairman ဖြစ်သူ Mr. J. K. Choi မှ တနင်္သာရီတိုင်းတွင် ဆီအုန်းစိုက်ပျိုးရေး အကောင်အထည်ဖော်မှုကို Auto Industrial Group အနေဖြင့် အပြည့်အဝတာဝန်ယူ ဆောင်ရွက်ရန်ဖြစ်ပြီး Resources & Resources ကုမ္ပဏီအနေ ဖြင့်လုပ်ငန်းတစ်ခုတွင် စီးပွားဖြစ်ထွန်းရန်အလားအလာကောင်းများရှိပါက ယင်းလုပ်ငန်းအတွက်လိုအပ်သည့် ဘဏ္ဍာရေးကဏ္ဍတစ်ရပ်လုံးကို တာဝန်ယူနိုင်စွမ်းရှိကြောင်း လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏မေတ္တာရပ်ခံချက်အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းစာ(၁)ဖြင့်မေတ္တာရပ်ခံခဲ့ ပါသည်။

၂။ အလားတူ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ စင်ကာပူနိုင်ငံရှိ Resources & Resources ကုမ္ပဏီမှာ ကိုရီးယားသမ္မတနိုင်ငံအခြေစိုက် Auto Industrial Group (AIG)ကုမ္ပဏီ၏ မိတ်ဆွေကုမ္ပဏီ (Partner Company)ဖြစ်ပြီး၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီး ဌာနနှင့် Auto Industrial Group (Auto & R&R) တို့အကြား နှစ်ဖက် ချုပ်ဆိုဆောင်ရွက်မည့် ထွက်ကုန် အချိုးကျခွဲဝေရယူမည့် စာချုပ် ( Product Sharing Agreement )တွင်လည်း Auto Industrial Group အနေဖြင့် ဦးဆောင်ကုမ္ပဏီ(Leading Co.)အဖြစ်လည်းကောင်း၊ Resources & Resources ကုမ္ပဏီအနေဖြင့် မိတ်ဆွေကုမ္ပဏီ(Partner Co.)အဖြစ် လည်းကောင်း၊ လက်မှတ်ရေးထိုးရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားပြီး ဖြစ်သည့်အလျောက် Resources &

Resources ကုမ္ပဏီသည် Auto Industrial Group ကုမ္ပဏီ ၏ မိတ်ဆွေကုမ္ပဏီအဖြစ် ဖော်ပြချက်အပေါ် သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းစာ(၂) ဖြင့် ထပ်လောင်းမေတ္တာရပ်ခံခဲ့ပါသည်။

၃။ စင်ကာပူရှိ Resources & Resources ကုမ္ပဏီသည် ကိုရီးယားသမ္မတနိုင်ငံရှိ Auto Industrial Group ကုမ္ပဏီကို ကျောထောက်နောက်ခံပြု၍ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံနိုင်ရန် ရည်ရွယ်ဖွဲ့စည်းထားသော ကုမ္ပဏီဖြစ်သည်ကို တွေ့ရှိရကြောင်း၊ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် အလားအလာရှိသောကုမ္ပဏီဖြစ်သည်ဟု ထင်မြင်ကြောင်းတွေ့ရှိရသဖြင့် Resources & Resources ကုမ္ပဏီသည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် အလားအလာရှိသော ကုမ္ပဏီဖြစ်ကြောင်း စင်ကာပူမြို့ မြန်မာသံရုံး၏ ၂၅-၆-၂၀၁၀ရက်စွဲပါစာအမှတ်၊ ၁၂၅-၅၄၅/၃၃၏ မိတ္တူကိုပူးတွဲလျက် ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
( သန်းစိန်၊ ဒုတိယညွှန်ကြားရေးမှူး)

Embassy of the Union of Myanmar
Singapore

စာအမှတ်၊ ၀၂၅-၃၉၅ /၃၃
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ ဇွန်လ ၂၅ ရက်

သို့

ဒုတိယဝန်ကြီး
နိုင်ငံခြားရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ <u>စင်ကာပူနိုင်ငံရှိ Resources & Resources Pte. Ltd. နှင့် ပတ်သက်၍ စုံစမ်းလာ သည့် ကိစ္စ</u>

ရည် ညွှန်းချက်။
(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇-၅-၂၀၁၀) ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(ခ)/န-၄၄၅/၂၀၁၀(၆၆၈၉)
(ခ) နိုင်ငံခြားရေးဝန်ကြီးဌာန၏ (၁၂-၅-၂၀၁၀) ရက်နေ့စွဲပါ စာအမှတ်၊ ၃၂၀၅ ၁၀၂(၁၄၇၈)
(ဂ) စင်ကာပူမြို့၊ မြန်မာသံရုံး၏ (၁၄-၅-၂၀၁၀) ရက်နေ့စွဲပါ စာအမှတ်၊ ၀၂၅-၄၃၀/၃၃
(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၆-၂၀၁၀) ရက်နေ့စွဲပါ စာအမှတ်၊ ရက-၆(ခ)/န-၄၄၅/၂၀၁၀(၈၉၃၂)

၁။ စင်ကာပူနိုင်ငံရှိ Resources & Resources Pte Ltd. နှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် နိုင်ငံခြားရေးဝန်ကြီးဌာနတို့မှ စုံစမ်းမေးမြန်းလာသည့်ကိစ္စကို ဤသံရုံးမှ (၁၃-၅-၂၀၁၀)ရက်နေ့တွင် ရည်ညွှန်း(ခ)ပါစာဖြင့် နိုင်ငံခြားရေးဝန်ကြီးဌာနသို့ ပြန်ကြားခဲ့ပြီး ဖြစ်ပါသည်။

၂။ ယင်းသို့ ပြန်ကြားခဲ့ပြီးနောက် စင်ကာပူနိုင်ငံရှိ Resources & Resources Pte Ltd. မှ Managing Director Mr. Pil Chai က (၉-၆-၂၀၁၀) ရက်နေ့တွင် စင်ကာပူမြို့၊ မြန်မာသံရုံးမှ သံအမတ်ကြီး ဦးဝင်းမြင့်အား လာရောက်တွေ့ဆုံခဲ့ပါသည်။ ယင်းသို့လာရောက်တွေ့ဆုံစဉ် Resources & Resources Pte Ltd. ကုမ္ပဏီသည် မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံမှုများ ပြုလုပ်နိုင်ရန်အတွက် မကြာမီက ဖွဲ့စည်းခဲ့သည့်ကုမ္ပဏီဖြစ်ပါ ကြောင်း၊ ယင်းကုမ္ပဏီ၏ ပင်မကုမ္ပဏီမှာ ၎င်း၏ ဖခင် ပိုင်ဆိုင်သည့် ကိုရီးယားသမ္မတ နိုင်ငံရှိ Auto Industry Group ဖြစ်ပါကြောင်း၊ ၎င်းကုမ္ပဏီအနေဖြင့် အီလက် ထရောနစ်နှင့် စက်မှုလုပ်ငန်းများကို ဆောင်ရွက်နေရာမှ ယင်းလုပ်ငန်းများတွင် ပြိုင်ဆိုင် မှုကြီး မားလာ သည့်

အတွက် အနာဂတ်တွင် သဘာဝသယံဇာတ(natural resources) လုပ်ငန်းများတွင် ရင်းနှီးမြှုပ်နှံရန် စီစဉ်လျက် ရှိပါကြောင်း၊ Resources & Resources Pte Ltd. ကုမ္ပဏီသည် မြန်မာနိုင်ငံနှင့် ဆက်သွယ်လုပ်ဆောင်ရာတွင် လွယ်ကူစေရန် ရည်ရွယ်၍ စင်ကာပူနိုင်ငံတွင် ထူထောင်ထားသည့် ကုမ္ပဏီဖြစ်သည့်အတွက် ငွေကြေး များစွာမထည့် ထားခြင်းမရှိပါ ကြောင်း၊ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံခွင့်ရရှိပါက ယင်း ရင်းနှီးမြှုပ်နှံခွင့်ပါမစ်ကို အခြေခံ၍ ရင်းနှီးမြှုပ်နှံသူများကို ရှာဖွေပေးနိုင်ပါကြောင်းဖြင့် ပြောကြားခဲ့ ပါသည်။ သံအမတ်ကြီးဦးဝင်းမြင့်က Resources & Resources Pte Ltd. နှင့် ကိုရီးယား သမ္မတနိုင်ငံရှိ Auto Industry Group တို့၏ဆက်စပ်မှုနှင့် မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံရန် ရည်ရွယ်ချက်(letter of intent)များကို သံရုံးသို့ပေးပို့ပါက ဆက်လက်ပေးပို့ တင်ပြပေးမည် ဖြစ်ကြောင်း ပြောကြားခဲ့ပါသည်။

၃။ ရည်ညွှန်း(ဃ)ပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ စာအရ Resources & Resources Pte Ltd. အနေဖြင့် စင်ကာပူမြို့၊ မြန်မာသံရုံးမှ ထောက်ခံထားသည့် ကိုရီးယားသမ္မတနိုင်ငံရှိ Auto Industry Group နှင့် ပတ်သက်သည့် အချက်အလက်များကို လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ တိုက်ရိုက်ပေးပို့ခဲ့ကြောင်း ရည်ညွှန်းချက်(ဃ) နောက်ဆက်တွဲပါအရ တွေ့ရှိရပါသည်။ သို့ဖြစ်ပါ၍ စင်ကာပူနိုင်ငံရှိ Resources & Resources Pte Ltd. သည် ကိုရီးယားသမ္မတနိုင်ငံရှိ Auto Industry Groupကို ကျောထောက်နောက်ခံပြု၍ မြန်မာနိုင်ငံတွင် ရင်းနှီးမြှုပ်နှံနိုင်ရန်ရည်ရွယ်၍ စင်ကာပူသမ္မတနိုင်ငံ၌ အထွေထွေစီးပွားရေးလုပ်ငန်း ဘက်စုံ ဆောင်ရွက်နိုင်ရန် ဖွဲ့စည်းထားသောကုမ္ပဏီ တစ်ခုဖြစ်သည်ကို တွေ့ရှိရပါကြောင်းနှင့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် အလားအလာရှိသော ကုမ္ပဏီတစ်ခုဖြစ်သည်ဟု ထင်မြင်ယူဆပါ ကြောင်း တင်ပြအပ်ပါသည်။

၂၅.၆.၂၀၁၀
(ဝင်းမြင့်)
သံအမတ်ကြီး

မိတ္တူကို
- အတွင်းရေးမှူး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
- ဒုတိယဝန်ကြီး၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန။

**OCBC Bank**

Oversea-Chinese Banking Corporation Limited
65 Chulia Street OCBC Centre
Singapore 049513

Date: 20th April, 2010

Myanma Industrial Crops Development Enterprise
(Perennial Crops and Farm Department)
Yangon, Myanmar

This letter confirms that Resources and Resources PTE. LTD. of 1 Tannery Road #01-01 One Tannery Singapore (347719) is a customer in good standing of this Bank. Our records state that Jung Pil Choi was born on 8th June, 1975 and the signature appearing at the bottom of this letter is the same as the signature we have on file for this customer.

Resources and Resources PTE. LTD. has operated [Account No. : 501183883301] satisfactorily and engaged in various financial transactions with us.

Our relationship credit has been approved and the repayment history satisfactory.

Your Sincerely

Sa'adatul Qamaliah Suhpi (Dawan)
Service Manager
Commercial Service Centre
Business Banking
OCBC Bank

ACCOUNTING AND CORPORATE REGULATORY AUTHORITY (ACRA) **BIZFILE**

**INFORMATION RESOURCES**

WHILST EVERY ENDEAVOR IS MADE TO ENSURE THAT INFORMATION PROVIDED IS UPDATED & CORRECT, THE AUTHORITY DISCLAIMS ANY LIABILITY FOR ANY DAMAGE OR LOSS THAT MAY BE CAUSED AS A RESULT OF ANY ERROR OR OMISSION.

**Business Profile (Company) of RESOURCES & RESOURCES (R&R) PTE. LTD. (200808471R)** — **Date: 23/02/2010**

**The Following Are The Brief Particulars of :**

| | |
|---|---|
| Registration No. : | 200808471R |
| Company Name. : | RESOURCES & RESOURCES (R&R) PTE. LTD. |
| Former Name if any : | |
| Incorporation Date : | 30/04/2008 |
| Company Type : | LIMITED EXEMPT PRIVATE COMPANY |
| Status : | Live Company |
| Status Date : | 30/04/2008 |

**Principal Activities**

| | |
|---|---|
| Activities (I) : | 65932 |
| Description : | INVESTMENT HOLDING COMPANIES |
| Activities (II) : | |
| Description : | |

**Capital**

| Issued Share Capital (AMOUNT) | Number of Shares | Currency | Share Type |
|---|---|---|---|
| 5000000.00 | 50000 | UNITED STATES OF AMERICA, DOLLARS | ORDINARY |

* Number of Shares Includes number of Treasury Shares

| Paid-up Capital (AMOUNT) | Number of Shares | Currency | Share Type |
|---|---|---|---|
| 5000000.00 | | UNITED STATES OF AMERICA, DOLLARS | ORDINARY |

COMPANY HAS THE FOLLOWING ORDINARY SHARES HELD AS TREASURY SHARES

| Number Of Shares | Currency |
|---|---|
| | |

| | |
|---|---|
| Registered Office Address : | 1 TANNERY ROAD<br>#01-01<br>ONE TANNERY<br>[illegible] |
| Date of Address : | 30/04/2008 |

DP BUREAU PTE LTD

# QUESTLINE - BUSINESS PROFILE

ACRA BUSINESS PROFILE

ACCOUNTING AND CORPORATE REGULATORY AUTHORITY
BUSINESS PROFILE (COMPANY)



## Details Of Company

| | |
|---|---|
| **Company Name:** | RESOURCES & RESOURCES (R&R) PTE. LTD. |
| **Registration Number:** | 200808471R |
| **Date Of Registration (dd/mm/yyyy):** | 30/04/2008 |
| **Country Of Incorporation:** | SINGAPORE |
| **Date Of Change Of Name:** | |
| **Former Name:** | |
| **Type Of Company:** | LIMITED EXEMPT PRIVATE COMPANY |
| **Registered Office Address:** | 1 TANNERY ROAD<br>#01-01 ONE TANNERY<br>SINGAPORE (347719) |
| **Date Of Change Of Address:** | 30/04/2008 |
| **Principal Activity(ies):** | 1) OTHER INVESTMENT HOLDING COMPANIES (64202)<br>INVESTMENT HOLDING COMPANIES |
| **Status:** | LIVE COMPANY |
| **Status Date:** | 30/04/2008 |

## Capital Structure

| Capital Structure: | No. Of Shares | Currency | Amount |
|---|---|---|---|
| ISSUED ORDINARY | 60,002 | U.S. DOLLAR | 60,002.00 |
| PAID-UP ORDINARY | | U.S. DOLLAR | 60,002.00 |

## Charge(s)

## Auditor(s)

| Name | Date Of Appointment |
|---|---|

## Officer(s)

| Name<br>ID | Address<br>Date Of Change Of Address | Nationality | Date Of Appointment/<br>Position Held |
|---|---|---|---|
| CHOI JUNG PIL<br>KR0283497 | #102-303 LINDON GROVE APT. SIHEUNG-DING SUJONG-GU, SUNGMAN-CITY, GYUNGGI-DO, KOREA<br>01/02/2010 | KOREAN, SOUTH | 24/12/2009<br>DIRECTOR |
| CHOI JOON KOOK<br>M02291647 | #7-1203, JINHEUNG APT. CHUNGDAM-DONG GANGNAM-GU, SEOUL, KOREA<br>30/04/2008 | KOREAN, SOUTH | 30/04/2008<br>DIRECTOR |

လိုပ္ပက်



Cert No. SG07/00

| | | | |
|---|---|---|---|
| MOON SAN<br>745549B | 22 LORONG PUNTONG<br>#05-01 COUNTRY GRANDEUR<br>SINGAPORE (576439)<br>12/02/2010 | SINGAPORE P.R. | 30/04/2008<br>DIRECTOR |
| LEE EUN HEE<br>S2745550F | 22 LORONG PUNTONG<br>#05-01 COUNTRY GRANDEUR<br>SINGAPORE (576439)<br>30/04/2008 | SINGAPORE P.R. | 30/04/2008<br>SECRETARY |

## Shareholder(s)

(Registration Numbers Prefixed With UF Or ACRA Are Numbers Allotted By ACRA For Purposes Of Identification.)

| Name<br>ID | Nationality | Address<br>Date Of Change Of Address |
|---|---|---|
| SUH SOO KYUNG<br>JR3355650 | KOREAN, SOUTH | #107-1403 CENTREVILLE APT.<br>DAECHI-DONG<br>GANGNAM-GU, SEOUL, KOREA<br>- |
| **Type** | **No Of Shares** | **Currency** |
| ORDINARY | 12,000 | U.S. DOLLAR |
| **Name**<br>**ID** | **Nationality** | **Address**<br>**Date Of Change Of Address** |
| CHOI EUN JUNG<br>KN0258077 | KOREAN, SOUTH | #2003, HANSOL APT. 672 BONGI,<br>JAYANG-DONG<br>GWANGJIN-GU, SEOUL, KOREA<br>- |
| **Type** | **No Of Shares** | **Currency** |
| ORDINARY | 9,600 | U.S. DOLLAR |
| **Name**<br>**ID** | **Nationality** | **Address**<br>**Date Of Change Of Address** |
| CHOI JUNG PIL<br>KR0283497 | KOREAN, SOUTH | #102-303 LINDON GROVE APT.<br>SIHEUNG-DING<br>SUJONG-GU, SUNGMAN-CITY,<br>GYUNGGI-DO, KOREA<br>01/02/2010 |
| **Type** | **No Of Shares** | **Currency** |
| ORDINARY | 12,600 | U.S. DOLLAR |
| **Name**<br>**ID** | **Nationality** | **Address**<br>**Date Of Change Of Address** |
| CHOI JOON KOOK<br>M02291647 | KOREAN, SOUTH | #7-1203, JINHEUNG APT. CHUNGDAM-DONG<br>GANGNAM-GU, SEOUL, KOREA<br>30/04/2008 |
| **Type** | **No Of Shares** | **Currency** |
| ORDINARY | 9,001 | U.S. DOLLAR |
| **Name**<br>**ID** | **Nationality** | **Address**<br>**Date Of Change Of Address** |
| CHOI JUNG WOOK<br>S 0460187 | KOREAN, SOUTH | #162-2601, JAMSIL-LELS APT. JAMSIL-2DONG<br>SONGPA-GU, SEOUL, KOREA<br>- |
| **Type** | **No Of Shares** | **Currency** |
| ORDINARY | 13,800 | U.S. DOLLAR |
| **Name**<br>**ID** | **Nationality** | **Address**<br>**Date Of Change Of Address** |
| JUN MOON SAN<br>S2745549B | SINGAPORE P.R. | 22 LORONG PUNTONG<br>#05-01 COUNTRY GRANDEUR |

လျှို့ဝှက်

၁၇

SINGAPORE (576439)
12/02/2010

DP BUREAU PTE LTD

ACRA BUSINESS PROFILE

| Type | No Of Shares | Currency |
|---|---|---|
| ORDINARY | 3,001 | U.S. DOLLAR |

## Compliance Record

| | |
|---|---|
| Date Of Last AGM: | 31/10/2009 |
| Date Of Last AR: | 24/12/2009 |
| Date Of A/C Laid At Last AGM: | 31/03/2009 |

THE ABOVE INFORMATION IS UPDATED TO 01 DAY FROM 11/05/2010
PLEASE NOTE THAT THE INFORMATION HEREIN CONTAINED IS EXTRACTED FROM FORMS FILED WITH THE AUTHORITY



လျှို့ဝှက်

**AUTO Industrial Group.**
14F Hanshin IT Tower #235 Guro-Dong Guro-Gu,
Seoul, 152-050 R.O.KOREA
TEL: +82 2 2108 7899 FAX: +82 2 2108 7999

| | | |
|---|---|---|
| DATE | : | June 1st, 2010 |
| T O | | Ministry of Agriculture & Irrigation, The Union of Myanmar |
| Attn | : | Tin Htut Oo [Director General, Department of Agriculture planning] |
| Cc | : | U Kyi Win [Managing Director, MPCE]<br>Aung Hlaing [Deputy Director, Department of Agriculture planning] |
| FROM | : | J.K. Choi/ Chairman of Auto Industrial Group |
| TITLE | : | Introduction of Resources & Resources Pte.,Ltd |

*Message*

I wish the prosperity of Ministry of Agriculture and Irrigation.

Resources & Resources Pte.,Ltd (R&R), which located in Singapore, is independent company and have enough capability to make investment into promising business like Myanmar and other countries but also has a close relationship with Auto Industrial Group.

R&R have strong confidence that Palm Oil plantation business in Thainthryi division, Myanmar which proposed by Auto Industrial Group, eventually bring enormous benefit to both parties including R&R even if huge amount of initial investment become burden so R&R decided to participate this project.

1. I would like to give explanation about R&R as below.

A. Purpose of Incorporation

-. Investment holding company for development of natural resource in south-east Asia countries and Trading.

B. Financing Capability (connection with more than 500 companies and individuals)

-. The most valuable asset of R&R is close cooperative relationship with powerful investors club which I mentioned previous statement. If business project can present positive plan, R&R is one available company which can provide whole financing without amount of investment when Auto Industrial Group has a full responsibility of whole project and main operator of Palm

လို့ဝှက်
၁၉

AUTO Industrial Group.

14F Hanshin IT Tower #235 Guro-Dong Guro-Gu.
Seoul, 152-050 R.O.KOREA
TEL: +82 2 2108 7899 FAX: +82 2 2108 7999

Oil plantation business in Thaintharyi division, Myanmar.

C. References

1. Incorporated Date ; 08th.April.2008

2. Company registration number ; 200808471R

3. List of Director ; Jung Pil Choi and 3 other directors.

(please refer to attached document)

I sincerely ask for your continuous support of earliest approval decision.

Best regards,
J.K.Choi / Chairman
Auto Industrial Group
Phone : +82-2-2108-7899
Fax : +82-2-2108-7999
E-mail : jkchoi@autosanup.com



လို့ဝှက်

Director List of Resources & Resources (R & R) PTE. LTD.

| Item | Details |
| --- | --- |
| Company name | Resources & Resources (R & R) PTE. LTD. |
| Executive of the Organization | |
| Name | Jung Pil CHOI |
| Designation | Representative |
| Citizenship | R.O.Korea |
| ID | KR0283497 |
| Address | 102-303 Kolon Linden-groove, Siheung-dong, Sujeong-gu, Seongnam Si, Gyeonggi-do, 461-370 Republic of Korea. |
| Name | Joon Kook CHOI |
| Designation | Director |
| Citizenship | R.O.Korea |
| ID | M02291647 |
| Address | 7-1203 Jin-Heung APT, 65 bunji, Cheongdam-dong, Gangnam-gu, Seoul, 135-953 Republic of Korea. |
| Name | Moon San JUN |
| Designation | Director |
| Citizenship | Singapore P.R |
| ID | S2745549B |
| Address | 22 Logong Puntong # 05-01 Country Grandeur Singapore (576439) |
| Name | Eun Hee LEE |
| Designation | Secretary |
| Citizenship | Singapore P.R |
| ID | S2745550F |
| Address | 22 Logong Puntong # 05-01 Country Grandeur Singapore (576439) |

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# ပြည်ထဲရေးဝန်ကြီးဌာန
# (ဝန်ကြီးရုံး)

စာအမှတ်၊ ပထ၅/၅ - ၂(၀၈၀)/ဦး ၁
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇူလိုင်လ ၁၆ ရက်

သို့

ဥက္ကဋ္ဌ

ကုန်သွယ်မှုမူဝါဒကောင်စီ

အကြောင်းအရာ။ **Resources & Resources Pte Ltd နှင့်ပတ်သက်၍ စိစစ်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ ၂၆-၄-၂၀၁၀ ရက်စွဲပါ စာအမှတ်၊ အမစ/ကသ/၃/၁၃ (၃၆၇/၂၀၁၀)

၁။ ၈-၄-၂၀၁၀နေ့ ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေး အမှတ်စဉ်(၁၃/၂၀၁၀)မှ Resources & Resources Pte Ltd ၏ဒါရိုက်တာအဖွဲ့ဝင်များမှာမည်သူများ ဖြစ်သည်ကို ပြန်လည်စိစစ်တင်ပြရန်အကြောင်းကြားချက်အရ တင်ပြခြင်းဖြစ်ပါသည်။

၂။ အဆိုပါ Resources & Resources Pte Ltd သည် အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနတွင် ကုမ္ပဏီမှတ်ပုံတင်ထားခြင်းမရှိကြောင်း သိရှိနိုင် ပါရန်တင်ပြပါသည်။

မောင်ဦး
ဝန်ကြီး

မိတ္တူကို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီး၊ နိုင်ငံခြားရေးဝန်ကြီးဌာန
ဝန်ကြီး၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
လက်ခံ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

ရ-၅၃၈
၂၃/၆

စာအမှတ်၊ ၁၁/ AIG ( ၅၂၃ /၂၀၁၀)
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ ဇွန်လ ၂၃ ရက်။

အကြောင်းအရာ။ **ကိုရီးယားသမ္မတနိုင်ငံ Auto Industrial Group (AUTO & RnR) မှ မြန်မာနိုင်ငံတွင် ဆီအုန်းစိုက်ပျိုး၍ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှု ဆောင်ရွက်မည့်ကိစ္စ။**

ရည်ညွှန်းချက်။ (၁) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန ၏ (၂၁.၅.၁၀) ရက်စွဲပါ ဖက်စ်အမှတ် ၁၁/ AIG (၄၃၉/၂၀၁၀)။ (မိတ္တူပူးတွဲ)

(၂) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန ၏ (၁၄.၆.၁၀) ရက်စွဲပါဖက်စ်အမှတ် ၁၁/ AIG (၅၀၀/၂၀၁၀)။(မိတ္တူပူးတွဲ)

၁။ ကိုရီးယားသမ္မတနိုင်ငံ Auto Industrial Group (AUTO & RnR) မှ မြန်မာ နိုင်ငံ တနင်္သာရီတိုင်းတွင် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆီအုန်းစိုက်ပျိုး ထုတ်လုပ် မည့် ကိစ္စနှင့်စပ်လျဉ်း၍ Resources and Resources Pte. Ltd. (RnR) ကုမ္ပဏီ ၏ ဒါရိုက်တာ အဖွဲ့ဝင်များနှင့် ကျောထောက်နောက်ခံအခြေအနေများကို ရည်ညွှန်း(၁)ပါစာဖြင့် မိတ္တူ ပေးပို့လျှက် လိုအပ်သလိုစိစစ်ပြန်ကြားပေးပါရန် မေတ္တာရပ်ခံထားပြီးဖြစ်ပါသည်။

၂။ ဤကိစ္စနှင့်စပ်လျဉ်း၍ (RnR) ကုမ္ပဏီ မှာ ကိုရီးယားနိုင်ငံ အခြေစိုက် Auto Industrial Group (AIG) ကုမ္ပဏီ ၏ မိတ်ဆွေကုမ္ပဏီ (Partner Company) ဖြစ်ပြီး၊ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနနှင့် Auto Industrial Group (AUTO & RnR) တို့အကြား နှစ်ဖက် ချုပ်ဆိုဆောင်ရွက်မည့် ထွက်ကုန်အချိုးကျ ခွဲဝေ ရယူမည့် စာချုပ် (Product Sharing Agreement) တွင်လည်း AIG အနေဖြင့် ဦးဆောင် ကုမ္ပဏီ (Leading Company) အဖြစ်လည်းကောင်း၊ RnR Company အနေဖြင့် မိတ်ဆွေ ကုမ္ပဏီ (Partner Company) အဖြစ်လည်းကောင်းလက်မှတ်ရေးထိုးရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြထားပြီးဖြစ်သည့်အလျှောက် အဆိုပါ RnR ကုမ္ပဏီအနေဖြင့် AIG ကုမ္ပဏီ၏ မိတ်ဆွေ ကုမ္ပဏီအဖြစ် ဖေါ်ပြချက်အပေါ် လိုအပ်သလိုစိစစ်၍ သဘောထား ပြန်ကြား ပေးပါရန်ထပ်လောင်းမေတ္တာရပ်ခံအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(လှရွှေ၊ ရုံးအဖွဲ့မှူး)

**နိုင်ငံခြားရေးဝန်ကြီးဌာန။**

မိတ္တူကို- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။
မြန်မာသံအမတ်ကြီး၊ စင်ကာပူနိုင်ငံဆိုင်ရာမြန်မာသံရုံး။
ရုံးလက်ခံ။

M-864
14/6

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၁/AIG (၅၈၀ /၂၀၁၀)
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဇွန်လ ၁၄ ရက်။

အကြောင်းအရာ။ **Auto Industrial Group (Auto & R&R) မှ မြန်မာနိုင်ငံ၌ ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံမည့်ကိစ္စ။**

ရည် ညွှန်း ချက်။ (၁) ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၂၆-၄-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ဒမစ/ကသ/၃/၁၃/(၃၆၇/၂၀၁၀)။

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇-၅-၂၀၁၀) ရက်စွဲပါစာအမှတ် ရက-၆(ခ)/နု-၄၄၅/၂၀၁၀ (၆၆၈၉)။

(၃) Auto Industrial Group ၏ (၁-၆-၂၀၁၀) ရက်စွဲပါဖက်စ်။ (မိတ္တူပူးတွဲ)

၁။ ကိုရီးယားသမ္မတနိုင်ငံရှိ Auto Industrial Group (Auto & R&R) သည် မြန်မာ နိုင်ငံ၊ တနင်္သာရီတိုင်းအတွင်း ဆီအုန်းစိုက်ပျိုးခြင်းနှင့် စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်းများ၌ ၁၀၀% တိုက်ရိုက် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုပြုလုပ်နိုင်ရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့ စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်း (နှစ်ရှည်ပင်လုပ်ငန်း) နှင့် နှစ်ဦးနှစ်ဖက် ပူးပေါင်း၍ Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် လုပ်ငန်းအဆိုပြုချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြခဲ့ပါသည်။

၂။ ယင်း အဆိုပြုလွှာအပေါ် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၈-၄-၂၀၁၀) ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၁၃/၂၀၁၀) မှ Auto Industrial Group နှင့် ပူးပေါင်းဆောင်ရွက်မည့် Resources & Resources Pte., Ltd. (R&R) ၏ ဒါရိုက်တာ အဖွဲ့ဝင်များမှာ မည်သူများဖြစ်သည်ကို စိစစ်၍ ကုန်သွယ်မှုမူဝါဒကောင်စီသို့ ပြန်လည်တင်ပြရန် ရည်ညွှန်း(၁)ပါစာဖြင့်အကြောင်းကြားခဲ့ပါသည်။ ဆက်လက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးမှလည်း Resources & Resources Pte., Ltd. ၏ ဒါရိုက်တာအဖွဲ့ဝင်များမှာ မည်သူများဖြစ်သည်ကို စိစစ်၍ ပြန်ကြားပေးပါရန် နိုင်ငံခြားရေးဝန်ကြီးဌာနသို့ ရည်ညွှန်း(၂)ပါစာဖြင့် မေတ္တာရပ်ခံခဲ့ပါသည်။

၃။ အဆိုပါကိစ္စနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန မှ Auto Industrial Group (Auto & R&R) ၏ Chairman ဖြစ်သူ Mr. J. K. Choi ထံသို့ ဆက်သွယ်မေးမြန်းခဲ့ရာ၌ ရည်ညွှန်း (၃)ပါစာဖြင့် ပြန်ကြားချက်အား ရရှိခဲ့ပါသည်။

၄။ အဆိုပါစာတွင် Resources & Resources Pte., Ltd. ၏ ဒါရိုက်တာအဖွဲ့ဝင်များကို ဖော်ပြထားပြီး R&R ကုမ္ပဏီနှင့်ပတ်သက်၍လည်း အောက်ပါအတိုင်း ရှင်းလင်းဖော်ပြထားပါသည်။ (ရည်ညွှန်း ၃ပါစာ)

(က) R&R ကုမ္ပဏီကို အရှေ့တောင်အာရှနိုင်ငံများတွင် သဘာဝအရင်းအမြစ်များ ဖွံ့ဖြိုးတိုးတက်ရေးနှင့် ကုန်သွယ်မှုလုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်ဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်၍ ပူးပေါင်းဆောင်ရွက်ရန် ရွေးချယ်ခဲ့ခြင်းဖြစ်ပါကြောင်း၊

(ခ) ဘဏ္ဍာရေးအင်အား ကျောထောက်နောက်ခံနှင့် ပတ်သက်၍လည်း R&R ကုမ္ပဏီမှာကုမ္ပဏီ ၅၀၀ ကျော်နှင့်လည်းကောင်း၊ တသီးပုဂ္ဂလိကများနှင့်လည်းကောင်း စီးပွားရေးအရ ပူးပေါင်းဆောင်ရွက်မှုများရှိပါကြောင်း၊ မြန်မာနိုင်ငံ၊ တနင်္သာရီတိုင်း ဆီအုန်းစိုက်ပျိုးအကောင်အထည်ဖော်မှုကို Auto Industrial Group Co. အနေဖြင့် အပြည့်အဝတာဝန်ယူအကောင်အထည်ဖော်ဆောင်ရွက်ရန်ဖြစ်ပြီး၊ R&R ကုမ္ပဏီအနေဖြင့်လည်း လုပ်ငန်းတစ်ခုတွင်စီးပွားဖြစ်ထွန်းရန် အလားအလာ ကောင်းများရှိနေပါက ယင်းလုပ်ငန်းအတွက် လိုအပ်သည့် ဘဏ္ဍာရေးကဏ္ဍတစ်ရပ်လုံးကို တာဝန်ယူနိုင်စွမ်းရှိပါကြောင်း ကုမ္ပဏီနှင့်ပတ်သက်သော အချက်အလက်များအား အောက်ပါအတိုင်းတင်ပြလာပါသည်-

| | | |
|---|---|---|
| (၁) ကုမ္ပဏီစတင်ဖွဲ့စည်းသည့်နေ့ရက် | - | (၈-၄-၂၀၀၈) |
| (၂) ကုမ္ပဏီမှတ်ပုံတင်အမှတ် | - | ၂၀၀၈၀၈၄၇၁ R |
| (၃) ဒါရိုက်တာ အဖွဲ့ဝင်များ | - | Jung Pil Choi နှင့် ၃ ဦး |
| (၄) ကုမ္ပဏီလိပ်စာ | - | Resources & Resources PTE. Ltd,<br>1 Tannery Road<br>#01-01,One Tannery<br>Singapore (347719) |

(ဂ) ခွင့်ပြုမိန့်ရရှိရေးအတွက် ဝန်ကြီး၏ ဆက်လက်ပံ့ပိုးမှုများ ဆောင်ရွက်ပေးနိုင်ပါရန် မေတ္တာရပ်ခံပါကြောင်း။

၅။ သို့ဖြစ်ပါ၍ အဆိုပါ Resources & Resources Pte., Ltd. (R&R) ကုမ္ပဏီနှင့်စပ်လျဉ်း၍ ပင်ရင်းကုမ္ပဏီဖြစ်သည့် Auto Industrial Group သို့ တိုက်ရိုက်မေးမြန်း၍ ရရှိသည့်ပြန်ကြားချက်အား လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် မေတ္တာရပ်ခံပေးပို့အပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(သန်းအေး၊ ညွှန်ကြားရေးမှူးချုပ်)

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။**

မိတ္တူကို - ပြည်ထဲရေးဝန်ကြီးဌာန။
- နိုင်ငံခြားရေးဝန်ကြီးဌာန။
- ရုံးအဖွဲ့မှူး၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန။
- ရုံးလက်ခံ။ မျှောစာတွဲ။

နောက်ဆက်တွဲ (က)

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၁/ AIG ( ၇၀၅ /၂၀၁၀)။
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ ဩဂုတ်လ ၂၄ ရက်။

အကြောင်းအရာ။ **Myanmar Auto Corporation တည်ထောင်၍ ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လုပ်ငန်းအဆိုပြုချက်တင်ပြခြင်းကိစ္စ။**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇-၈-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ရက-၆(ခ)/န-၄၄၅/၂၀၁၀ (၁၂၂၆၀)

၁။ Myanmar Auto Corporation (MAC) မှ Auto Industrial Group (Auto & RnR) တည်ထောင်၍ တနင်္သာရီတိုင်း၊ ကော့သောင်းခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသတွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင် ရွက်နိုင်ရေးအတွက် အဆိုပြုချက်တင်ပြခြင်းကိစ္စရပ်အား ရည်ညွှန်းပါစာဖြင့် အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြရန် အတွက် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အစိုးရအဖွဲ့အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရေးအတွက် အဆိုပြုလွှာမိတ္တူ (၁၅)စုံကို Adobe Acrobat Reader (PDF) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

ဒုတိယဝန်ကြီး (ကိုယ်စား)
(လှရွှေ ၊ ရုံးအဖွဲ့မှူး)

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။**

မိတ္တူကို - ရုံးလက်ခံ။
- မျှောစာတွဲ။

TTLin > MICDE
DAP L (MAC) Auto&RnR) (၂၂၉၂၀၁၀)

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ AIG ( ၁၀၄ / ၂၀၁၀)။
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ဖေဖော်ဝါရီလ ၅ ရက်။

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ကိုရီးယားသမ္မတနိုင်ငံ Auto Industrial Group (AUTO & RnR) မှ တနင်္သာရီတိုင်းအတွင်း ဆီအုန်းစိုက်ပျိုး၍ စားအုန်းဆီထုတ်လုပ်ရန် ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့်ကိစ္စအားတင်ပြခြင်း။**

### နိဒါန်း

၁။ ကိုရီးယားသမ္မတနိုင်ငံ Auto Industrial Group (AUTO & RnR) သည် တနင်္သာရီတိုင်း၊ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧက (၁၃၃,၆၀၀) ပေါ်၌ ဆီအုန်းဧက(၃၀၀,၆၀၀)စိုက်ပျိုးပြီး၊ စားအုန်းဆီထုတ်လုပ်ခြင်းလုပ်ငန်းအား ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြု၍ နိုင်ငံတော်နှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်ရေးအတွက် အောက်ဖော်ပြပါအခြေအနေများအရ ညှိနှိုင်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

### ရည်ရွယ်ချက်

၂။ အဆိုပါ Auto Industrial Group (AUTO & RnR) ကုမ္ပဏီအနေဖြင့် ဖော်ပြပါ တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသတွင် စိုက်ပျိုးထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့် ဆီသန့်များကို ပြည်တွင်းဈေးကွက်နှင့် ပြည်ပဈေးကွက်သို့ ဖြန့်ဖြူးရောင်းချခြင်းဖြင့် နိုင်ငံတော်၏ စားသုံးဆီလိုအပ်ချက်ကို ဖြည့်ဆည်းပေးမည့်အပြင် ဒေသခံပြည်သူလူထုများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်ရည်ရွယ်ပါသည်။

### ရင်းနှီးမြှုပ်နှံမှုပုံစံနှင့်ပမာဏ

၃။ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပုံစံဖြင့်ဆောင်ရွက်မည်ဖြစ်ပြီး ကနဦး ရင်းနှီးမြှုပ်နှံမှု (Initial Investment) မှာ အမေရိကန်ဒေါ်လာ (၆၂)သန်းဖြစ်၍ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု (Total Investment) မှာ အမေရိကန်ဒေါ်လာ သန်း(၁၀၀) ဖြစ်ပါသည်။

## ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့်ကာလ

၄။ စီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅) နှစ်ဖြစ်ပြီး၊ နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၂၅) နှစ်သက်တမ်းတိုးဆောင်ရွက်မည်ဖြစ်ပါသည်။

## မြေယာဖော်ထုတ်စိုက်ပျိုးမည့်အစီအစဉ်

၅။ Auto Industrial Group (AUTO & RnR) သည် အဆိုပါ တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧရိယာဧက (၁၃၃,၆၀၀) အနက် စိုက်ပျိုးမြေဖော်ထုတ်နိုင်မည့် မြေဧရိယာဧက(၁၀၀,၆၀၀)ကို အောက်ပါအတိုင်းနှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးသွားရန် စီစဉ်ထားပါသည်-

| နှစ် | ဖော်ထုတ်စိုက်ပျိုးမည့် ဧရိယာ |
|---|---|
| ပထမနှစ် | ၆၀၀ ဧက |
| ဒုတိယနှစ် | ၁၀,၀၀၀ ဧက |
| တတိယနှစ် | ၁၅,၀၀၀ ဧက |
| စတုတ္ထနှစ် | ၂၅,၀၀၀ ဧက |
| ပဉ္စမနှစ် | ၂၅,၀၀၀ ဧက |
| ဆဋ္ဌမနှစ် | ၂၅,၀၀၀ ဧက |
| စုစုပေါင်း | ၁၀၀,၆၀၀ ဧက |

## ကနဦးရင်းနှီးမြှုပ်နှံမည့် အစီအစဉ်

၆။ Auto Industrial Group (AUTO & RnR) အနေဖြင့် အဆိုပါ တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသတွင် ဖော်ပြပါ လုပ်ငန်းများကို ကနဦး (၃၅)နှစ်အတွင်း အမေရိကန်ဒေါ်လာ (၆၂)သန်းကို ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပါသည်-

| | | အမေရိကန် ဒေါ်လာ | ညီမျှသည့် မြန်မာကျပ် |
|---|---|---|---|
| (က) | နိုင်ငံခြားငွေ | ၁၇,၈၇၅,၀၀၀ | ၁၀၇,၂၅၀,၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ တင်သွင်းခြင်း | ၂၂,၃၈၅,၀၀၀ | ၁၃၄,၃၁၀,၀၀၀ |
| (ဂ) | ကုန်ကြမ်းပစ္စည်းနှင့်အခြား ဆက်စပ်ပစ္စည်းများ | ၂၁,၁၄၀,၀၀၀ | ၁၂၆,၈၄၀,၀၀၀ |
| (ဃ) | ကျွမ်းကျင်မှုနည်းပညာ | ၆၀၀,၀၀၀ | ၃,၆၀၀,၀၀၀ |
| | စုစုပေါင်း | ၆၂,၀၀၀,၀၀၀ | ၃၇၂,၀၀၀,၀၀၀ |

<u>ထွက်ကုန်အပေါ် အကျိုးအမြတ်ခွဲဝေမှုစနစ်</u> (Product Sharing System)

၇။ Auto Industrial Group (AUTO & RnR) သည် ယခု ထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့်ဆီချောများကို နိုင်ငံတော်ကိုယ်စား မြေရှင်အဖြစ်ဆောင်ရွက်မည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့ စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)သို့ ဆီသီးခိုင်စတင်ထွက်ရှိ လာသည့်မှစ၍ အောက်ပါအစီအစဉ်အတိုင်း ခွဲဝေပေးရန်ဖြစ်ပါသည်-

| စဉ် | ကာလ | ထွက်ရှိမှုအပေါ် ပေးရန် အချိုး | ရရှိနိုင်မည့် မျှော်မှန်း ထွက်ကုန် ပမာဏ (တန်) |
|---|---|---|---|
| (က) | ဆီသီးခိုင်ထွက်ရှိလာချိန်မှ(၁၀)နှစ်ထိ | (၂.၅%) | ဆီကြမ်း (၁၀,၇၀၀) |
| (ခ) | (၁၁)နှစ်မှ (၁၄)နှစ်ထိ | (၅%) | ဆီကြမ်း (၃၉,၄၀၀) |
| (ဂ) | (၁၅)နှစ်မှ(၁၈)နှစ်ထိ | (၇%) | ဆီကြမ်း (၆၃,၄၀၀) (သို့မဟုတ်) ဆီချော (၄၇,၅၀၀) |
| (ဃ) | (၁၉)နှစ်မှ(၂၂)နှစ်အထိ | (၅%) | ဆီကြမ်း (၄၆,၅၀၀) (သို့မဟုတ်) ဆီချော (၃၄,၉၀၀) |
| (င) | (၂၃)နှစ်မှစ၍နောက်ပိုင်း | (၂.၅%) | ဆီကြမ်း (၅၁,၃၀၀) (သို့မဟုတ်) ဆီချော (၃၈,၅၀၀) |

၈။ အထက်ပါအတိုင်းထွက်ကုန်အပေါ်အကျိုးအမြတ်၏ခွဲဝေမှုစနစ်ဖြင့်ဆောင်ရွက်ရန်အတွက် မြေရှင်အဖြစ်ဆောင်ရွက်မည့် လယ်ယာ စိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) နှင့် Auto Industrial Group (AUTO & RnR) တို့အကြား ချုပ်ဆိုမည့် Product Sharing Agreement သဘောတူစာချုပ် (မူကြမ်း) အပေါ် ရှေ့နေချုပ်ရုံး၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာနနှင့် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနတို့၏ သဘောထားမှတ်ချက်များ <u>နောက်ဆက်တွဲ-က</u> နှင့်အညီ ပြင်ဆင်ရေးဆွဲထားသည့် စာချုပ် (မူကြမ်း) အား <u>နောက်ဆက်တွဲ -ခ</u> ဖြင့် တင်ပြအပ်ပါသည်။

<u>နိုင်ငံတော်အတွက် ရရှိမည့် အကျိုးကျေးဇူးများ</u>

၉။ Auto Industrial Group (AUTO & RnR) ကုမ္ပဏီသည် Product Sharing စနစ်ဖြင့် မြန်မာနိုင်ငံတွင် ဆီအုန်းစိုက်ပျိုးထုတ်လုပ်သည့် လုပ်ငန်းကို (၃၅)နှစ်ကြာ ရင်းနှီးမြှုပ်နှံဆောင်ရွက်ခြင်းအားဖြင့် နိုင်ငံတော်မှ စီမံကိန်းကာလအတွင်း အမေရိကန်ဒေါ်လာ (၈၉.၁၆၆)သန်းခန့် ရရှိနိုင်မည်ဖြစ်သည့်အပြင် အကြမ်းဖျင်းတွက်ချက်မှုအရ ကုန်သွယ်လုပ်ငန်းခွန် နှင့်ဝင်ငွေခွန် ၃ စုပေါင်းအမေရိကန် ဒေါ်လာ(၂၆၁)သန်းခန့်ရရှိနိုင်မည်ဖြစ်ခြင်း၊ နိုင်ငံတော်၏ ပြည်တွင်းဆီဖူလုံရေးကိုဘဖက်တစ်လမ်းမှဖြည့်ဆည်း

ပေးနိုင်ခြင်း၊ မြန်မာနိုင်ငံအတွင်းသို့ ပြည်ပမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံဝင်ရောက်လာခြင်း၊ ဆီအုန်းစိုက်ပျိုးထုတ်လုပ်မှု နည်းပညာဆိုင်ရာ ကျွမ်းကျင်မှုများ ရရှိလာနိုင်ခြင်းတို့အပြင် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပေါ်ပေါက်လာနိုင်ခြင်း စသည့် အကျိုးကျေးဇူးများရရှိနိုင် မည်ဖြစ်ပါသည်။

<u>ဆုံးဖြတ်ရန်အချက်။</u>

၁၀။ တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသရှိ မြေဧရိယာဧက (၁၃၃,၆၀၀) ၌ ဆီအုန်းဧက (၁၀၀,၆၀၀) ကို ကိုရီးယားသမ္မတနိုင်ငံ Auto Industrial Group (AUTO & RnR) နှင့် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီး ဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) တို့အကြား ဆီအုန်းစိုက်ပျိုး၍ စားအုန်းဆီထုတ်လုပ်လိုခြင်းလုပ်ငန်း ကို Product Sharing စနစ်ဖြင့် ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြု၍ ဆောင်ရွက်ရန် တင်ပြသည့်ကိစ္စအား သဘောတူ/မတူ။

<u>လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ထောက်ခံချက်။</u>

၁၁။ အထက်အပိုဒ် ၁၀။ ပါ အဆိုပြုတင်ပြချက်ကို သဘောတူသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

(ဗိုလ်ချုပ်ဌေးဦး)
ဝန်ကြီး

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။</u>

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# ရှေ့နေချုပ်ရုံး
# နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၃၀ /နပတ( ၄၉၂ )

ရက်စွဲ ၊ ၂၀၀၉ ခုနှစ် ၊ ဒီဇင်ဘာလ ၂၄ ရက်

အကြောင်းအရာ။ **ကိုးရီးယားနိုင်ငံ Auto Industrial Group ( Auto & R n R) မှ မြန်မာနိုင်ငံတွင် ၁၀၀% နိုင်ငံခြားတိုက်ရိုက်ရင်းနှီးမြှုပ်နှံမှု စာချုပ်(မူကြမ်း)နှင့် မြေငှားစာချုပ် (မူကြမ်း) တို့အား သဘောထား မှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၉-၁၁-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၁/ Auto(၈၀၁/ ၂၀၀၉)

(၂) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၅-၁၂-၂၀၀၉ ရက်စွဲပါစာအမှတ်၊ ၁၁/ Auto(၉၀၁/ ၂၀၀၉)

၁။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန)(MICDE(PCFD))နှင့် ကိုရီးယားနိုင်ငံ Auto Industrial Group ( Auto & R n R) တို့ အကြား တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသမှ မြေဧက ၁၃၃,၆၀၀ တွင် ဆီအုန်းစိုက်ပျိုးရေး၊ ထုတ်လုပ်ရောင်းချရေးလုပ်ငန်းကို ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံ၍ Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန်အတွက် ချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)နှင့်ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုစာချုပ်(မူကြမ်း)တို့အား သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့်မေတ္တာရပ်ခံခဲ့ပြီးနောက်ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံမှုစာချုပ်(မူကြမ်း)ကိုသာသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် ထပ်မံမေတ္တာရပ်ခံလာသောကိစ္စရပ်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော Product Sharing Agreement Regarding Hundred Percent Foreign Direct Investment (မူကြမ်း)ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)၏ စာချုပ်ဝင်များအပိုဒ်တွင် Auto Industrial Group(Korea) နှင့် Resources & Resources PTE Ltd (Singapore)တို့ ပူးပေါင်း၍ Auto Industrial

Group ( Auto & R n R) အမည်ဖြင့် သီးခြားစီ ရပ်တည် နေ သောကုမ္ပဏီနှစ်ခုကို Partner ကုမ္ပဏီများအဖြစ်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ ကုမ္ပဏီတစ်ခုစီအတွက် သက်ဆိုင်ရာနိုင်ငံ၏ မည်သည့် ဥပဒေအရ ဖွဲ့စည်းထားကြောင်း၊ ကုမ္ပဏီတစ်ခုစီ၏ကိုယ်စားပြုသူအမည်၊ နေရပ်လိပ်စာ စသည်ဖြင့် တစ်ပိုဒ်ချင်းစီရှင်းလင်းစွာ ဖော်ပြသင့်ပါသည်။ Auto Industrial Group နှင့် Resources & Resources PTE Ltd တို့သည် ပူးပေါင်း၍စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ် ကြောင်း WHEREAS အပိုဒ်တွင် ဖော်ပြသင့်ပါသည်၊

(ခ) ထို့ပြင် Auto & R n R အမည်ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် Auto Industrial Group သည် Leading Company ဖြစ်ကြောင်း၊ စာချုပ်ဝင်စာပိုဒ်တစ်ပိုဒ်တည်း၌စုပေါင်းဖော်ပြထားပြီး စာချုပ်(မူကြမ်း)Article 2.3 တွင် Auto & R n R ကို မြန်မာနိုင်ငံ၏ ဥပဒေအရဖွဲ့စည်းမည်ဟုဖော်ပြထားသဖြင့် မည်သို့ဖွဲ့စည်းမည်ကိုစာချုပ်ဝင်အပိုဒ်တွင် သီးခြားစာပိုဒ်အဖြစ် ဖော်ပြရန် လို အပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)Article 2 SCOPE of AGREEMENT အပိုဒ်ခွဲ 2.1 တွင် Initial Investment Amount ကိုသာဖော်ပြထားရာ ယခုစာချုပ်မှာ ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံမှု စာချုပ်ဖြစ်သောကြောင့် Total Investment Amount ကို မဖြစ်မနေထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)Article 5.15 ရှိ Remarks တွင် ကြိုတင်မခန့်မှန်းနိုင်သော ရာသီဥတုအပြောင်းအလဲနှင့် International Price အတက်အကျပေါ်မူတည်၍ ထုတ်လုပ်မှု၏ Ratio ကို ပြန်လည်ပြင်ဆင်မည်ဆိုသော ဖော်ပြချက်များအား သီးခြားစည်းကမ်းချက်အနေဖြင့် ထည့်သွင်းရန်ဖြစ်ပါသည်၊

(င) စာချုပ်(မူကြမ်း)Article 1.10 နှင့် Article 5.15(a)တွင် အတိုကောက်ဖော်ပြထားသော R & D နှင့် CPO ဟူသော စကားလုံးတို့၏ စာသားအပြည့်အစုံဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)Article 4 LEASE OF LAND စာပိုဒ်တွင် MICDE(PCFD) သည် Auto & R n R သို့ မြေ ၁၃၃,၆၀၀ ဧကကို ဆီအုန်းစိုက်ပျိုးရေးလုပ်ငန်းအတွက် ငှားရမ်းမည်ဖြစ်ကြောင်း နှင့် Article 6.1 တွင် ထိုသို့ငှားရမ်းရာ၌ မည်သည့်အခကြေးငွေမှုမပါရှိဘဲ

ငှားရမ်းမည်ဖြစ်ကြောင်းဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ဖြစ်ရာ ယခုစာချုပ်(မူကြမ်း)အရ ထုတ်လုပ်မှုကိုခွဲဝေသည့်စနစ်ဖြင့် ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရန် ချုပ်ဆိုမည့်စာချုပ်ဖြစ်ပြီး စာချုပ်(မူကြမ်း)၏ Article 5.15(a) အရ ဖော်ပြထားသည့် စတင်စိုက်ပျိုးချိန်မှအပင်၏ သက်တမ်း(၄)နှစ်မှ (၇)နှစ်အတွင်းထုတ်ကုန်ထုတ်လုပ်ခြင်းမပြုမီ၊ မထွက်မီကာလအတွင်းဌာနအနေဖြင့်မည်သည့် အကျိုးအမြတ်မှမရှိသည်ကိုသတိပြုသင့်ပါသည်။ ထို့ကြောင့် မြေအသုံးချမှုနှင့်စပ်လျဉ်း၍ Land use premium ရယူရန်သင့်မသင့်၊ ယခုစာချုပ် ချုပ်ဆိုခြင်းအတွက် Signature Bonus ရယူရန် သင့် မသင့် ဌာနမှစဉ်းစားသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) Article 6 Rights and Obligations of MICDE(PCFD) အပိုဒ်ခွဲ6.3 ပါတာဝန်များကို ဌာနမှဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိစိစစ်ရန်လိုအပ်သည်၊

(ဇ) စာချုပ်(မူကြမ်း) Article 6.6 ပါ တာဝန်များဖြစ်သည့် လျှပ်စစ်၊ ဆက်သွယ်ရေး၊ ပို့ဆောင်ရေးနှင့်ဆက်နွယ်သည့်ကိစ္စများကိုလည်း ဌာနမှပူးပေါင်းကူညီဆောင်ရွက်ပေးရမည်ဖြစ် ရာသက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းထားရန်လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) Article 6.9 တွင် MICDE(PCFD) သည် Auto & R n R ကို ပြည်တွင်းပြည်ပဈေးကွက်များတွင် လွတ်လပ်စွာရောင်းချရန် (Free Sale) အတွက်ခွင့်ပြုရမည်ဟုဖော်ပြထားရာFree Sale ဟူသော စကားရပ်မှာကျယ်ပြန့်သဖြင့် ဌာန အနေဖြင့် သတိပြုသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)ပါ ဖော်ပြချက်များအရ ထုတ်လုပ်မှုအပေါ်ခွဲဝေမှုစနစ်ကို ဆီအုန်းထွက်ရှိသည့်အပေါ်အခြေခံပြီး အချိုးကျခွဲဝေယူရန်ဖော်ပြထားရာ ဆီအုန်းထုတ်လုပ်ခြင်း၊ ရောင်းချခြင်းလုပ်ငန်းစဉ်များနှင့်စပ်လျဉ်း၍ သိရှိနိုင်ရန်အတွက် ဌာနနှင့် ကုမ္ပဏီတို့၏ကိုယ်စားလှယ်များပါဝင်သောအဖွဲ့အစည်းတစ်ရပ်ဖွဲ့စည်းသင့်သည်ဟု ယူဆပါသည်၊

(ဋ) ယခုစာချုပ်(မူကြမ်း)အရ မြေကို အခကြေးငွေဖြင့်ငှားရမ်းခြင်းမဟုတ်ဘဲ PSC စနစ်ဖြင့်ဆောင်ရွက်ရာတွင်မြေကို နှစ်ရှည်ကာလအပိုင်းအခြားဖြင့် အသုံးပြုခွင့်ပေးမည့် အစီအစဉ်ဖြစ်၍ စာချုပ်(မူကြမ်း)တွင် Lease ဆိုသောစကားရပ်များကို ပယ်ဖျက်ရန် လိုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)Article 8 Ownership of Properties အပိုဒ်ခွဲ 8.2 တွင် စာချုပ်သက်တမ်းကုန်ဆုံးခြင်း(သို့မဟုတ်) စာချုပ်ဝင်တစ်ဖက်က စာချုပ်ကိုရပ်စဲခြင်းတွင် Auto & R n R သည် ငှားရမ်းသည့်မြေပေါ်ရှိအဆောက်အဦများ၊ စက်ရုံများ၊ စိုက်ပျိုးထားသည့်အပင်များစသည့်မရွှေ့မပြောင်းနိုင်သည့်ပစ္စည်းများအားလုံး(all Immovable properties)ကိုပိုင်ဆိုင်ခွင့်ရှိသည်ဟုဖော်ပြထားချက်သည် ၁၉၈၇ ခုနှစ်၊ မရွှေ့မပြောင်းနိုင်သောပစ္စည်းလွှဲပြောင်းခြင်းကိုကန့်သတ်သည့်ဥပဒေနှင့်ညီညွတ်ခြင်းမရှိသဖြင့် ယင်းအပိုဒ်အားပယ်ဖျက်သင့်ပါသည်။ သို့ဖြစ်ပါ၍ ယခုချုပ်ဆိုမည့်စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါတွင်အသုံးပြုသည့် Land and Property များကို ဌာနသို့ပြန်လည် လွှဲပြောင်းပေးရမည်ဟူသော Retransfer စာပိုဒ်အားထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း)Article 9 Performance Bank Guarantee တွင် Annex 2 အဖြစ်ဖော်ပြထားသောဘဏ်အာမခံပုံစံပါရှိလာခြင်းမရှိ၍စိစစ်ပေးနိုင်ခြင်းမရှိပါ။ စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် နောက်ဆက်တွဲအဖြစ်ပြည့်စုံစွာ ပူးတွဲဖော်ပြရန်နှင့် အဆိုပါဘဏ်အာမခံပုံစံမှာ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်မှသတ် မှတ်ထားသည့်ဘဏ်အာမခံပုံစံဖြစ်ရန်နှင့် စာချုပ်ပါစည်းကမ်းချက်များနှင့်ညီညွတ်ရန်လို အပ်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) Article 14 Arbitration အပိုဒ်တွင်အငြင်းပွားမှုပေါ်ပေါက်လာလျှင်နှစ်ဖက်သဘောတူဖြေရှင်းရန်၊ ယင်းသို့ဖြေရှင်း၍မရပါက သက်ဆိုင်ရာကုမ္ပဏီများမှခန့်ထားသော Arbitrator များက ဖြေရှင်းဆောင်ရွက်ရန်၊ ထို့သို့ဖြေရှင်း၍မရပါက The International Chamber of Commerce (ICC) စည်းမျဉ်းများဖြင့်ဖြေရှင်းရန် ဖော်ပြထားပါသည်။ ဤသို့နည်းလမ်းအဆင့်ဆင့်နည်းဖြင့်ဖြေရှင်းခြင်းထက် ကုလသမဂ္ဂမှကြီးမှူးရေးဆွဲထားသည့် UNCITRAL Rules ဖြင့် မြန်မာနိုင်ငံတွင် ဖြေရှင်းရန်ညှိနှိုင်းသင့်ပါသည်၊ မရပါက UNCITRAL Rules ဖြင့် Singapore Arbitration Center သို့မဟုတ် Malaysia Arbitration Center တွင် ဖြေရှင်းရေးအတွက်ညှိနှိုင်းသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)Article 16 Force Majeure နှင့် စပ်လျဉ်း၍ စာချုပ်များတွင် အသုံးပြုလေ့ရှိသော Force Majeure အပိုဒ်အား Slip ကပ်ပေးလိုက်ပါသည်၊

(တ) ဤစာချုပ်(မူကြမ်း)တွင်ဥပဒေအရထည့်သွင်းရန်လိုအပ်သော Inalienable Rights နှင့် Rene gotiation အပိုဒ်တို့အား ဖြည့်သွင်းရေးသားထားပါသည်၊

(ထ) စာချုပ်(မူကြမ်း)တွင် သယံဇာတတွေ့ရှိခြင်းနှင့်စပ်လျဉ်းသည့် အပိုဒ်မပါရှိသဖြင့်ရေးသားပေးလိုက်ပါသည်၊

(ဒ) လိုအပ်သောနေရာများတွင် မင်နီဖြင့်ပြင်ဆင်ပေးထားပါသည်။

၃။ စာချုပ်(မူကြမ်း)မှာ ဆီအုန်းစိုက်ပျိုးရေး၊ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် မြေဧက ၁၃၃,၆၀၀ အား ဆောင်ရွက်ခွင့်ပေးခြင်းဖြစ်၍ ယခင်နိုင်ငံတော်ငြိမ်ဝပ်ပြားမှုတည်ဆောက်ရေးအဖွဲ့၏ ၂၆-၁-၉၅ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ်၊ ၁၂/၉၅ နှင့် ညီညွတ်ရန်လိုအပ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့်ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၅။ Auto Industrial Group ( Auto & R n R) သည် ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများတောင်းယူစိစစ်သင့်ပါသည်။

၆။ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(signature) ၂၄.၁၂.၉၉

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)

( ကျော်ဆန်း၊ ညွှန်ကြားရေးမှူး)

လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဝန်ကြီးရုံး

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘ၁ - ၁/ ၂၇၄(မှ၂၆၈/၂၀၀၉)
ရက်စွဲ၊ ၂၀၀၉ ခုနှစ်၊ ဒီဇင်ဘာလ ၄ ရက်

သို့

ဝန်ကြီး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၉-၁၁-၂၀၀၉ ရက်စွဲပါ စာအမှတ်၊ ၁၁/ Auto (၈၀၁/၂၀၀၉)

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းနှင့် ကိုရီးယားနိုင်ငံ Auto Industrial Group Limited နှင့် စင်္ကာပူနိုင်ငံ Resources & Resources PTE. Ltd တို့ အကျိုးတူပူးပေါင်းဆောင်ရွက်မည့် Auto Industrial Group (AUTO & RnR) တို့ တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ ပြည်ကြီးမဏ္ဍိုင်ဒေသတွင် ဆီအုန်းစိုက်ပျိုးရေးလုပ်ငန်း၌ ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံ၍ Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန် ချုပ်ဆိုမည့် သဘောတူစာချုပ် (မူကြမ်း) အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) စာချုပ်အပိုဒ် ၆.၈ တွင် MICDE (PCFD) Shall assist in the free in-flow and out-flow of cash တွင် free အား ဖြုတ်သင့်ပါကြောင်းနှင့် ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံ၍ Production Sharing စနစ်ဖြင့် ဆောင်ရွက်မည် ဖြစ်သဖြင့် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန် လိုအပ်ပါ သည်။

(ခ) စာချုပ်အပိုဒ်(၉) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအတွက် ကိုရီးယားအစိုးရ၏ အတည်ပြုချက် ရရှိပြီးက Auto Industrial Group (AUTO & RnR) သည် ရင်းနှီးမြှုပ်နှံမှု၏ (၃)ရာခိုင်နှုန်းတန်ဖိုး ရှိ Performance Bank Guarantee ကို တင်သွင်းမည် ဖြစ်ကြောင်း ဖော်ပြထားသော်လည်း Bank Guarantee ပုံစံ ပူးတွဲမပါရှိသဖြင့် စိစစ်နိုင်ခြင်းမရှိပါ။

(ဂ) စာချုပ်အပိုဒ် (၈.၂)တွင် နှစ်ဖက်သဘောတူညီသည့် သက်တမ်း သို့မဟုတ် တိုးမြှင့်ထားသည့် စာချုပ်ဝင်အဖွဲ့အစည်းတစ်ခုခုမှ လုပ်ငန်းရပ်ဆိုင်းသည့်အခါ ငှားရမ်းထားသည့် မြေပေါ်တွင် တည်ဆောက်ထားသော မရွှေ့မပြောင်းနိုင်သော ပစ္စည်းများ (အဆောက်အဦများ၊ မြေပေါ်နှင့် မြေအောက်တွင် စိုက်ပျိုးထားသော အပင်များနှင့်

